Novelty Service Co., Ltd. မှ တင်ပြသည့် အဆိုပြုလွှာနှင့်စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

ပညာရေးဝန်ဆောင်မှုလုပ်ငန်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုလျှောက်ထားလွှာ တင်ပြလာခြင်း | ၁၉-၂-၂၀၁၉ | | |
| ၂။ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်း အဝေးသို့တင်ပြခြင်း | ၈/၂၀၁၉ (၂၅-၂-၂၀၁၉) | | |
| ၃။ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်း အဝေးဆုံးဖြတ်ချက်နှင့်အညီ ပြန်လည်တင်ပြခြင်း | ၁၂-၃-၂၀၁၉ | | |
| ၄။ | လုပ်ငန်းလိုအပ်ချက်အရ သက်ဆိုင်ရာ ဝန်ကြီးဌာနများသို့ သဘောထား တောင်းခံခြင်း<br>- ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့<br>- ပညာရေးဝန်ကြီးဌာန | <br><br>၂၂-၃-၂၀၁၉<br>၂၂-၃-၂၀၁၉ | <br><br>၁၂-၄-၂၀၁၉<br>၂၉-၃-၂၀၁၉ | |
| ၅။ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၈/၂၀၁၉ (၂၉-၅-၂၀၁၉) | | |
| | စုစုပေါင်းကြာမြင့်ရက် | ၇၈ ရက် | | |

## အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

ကုမ္ပဏီအမည် Novelty Service Co., Ltd.

လုပ်ငန်းအမျိုးအစား ပညာရေးဝန်ဆောင်မှုလုပ်ငန်း

PAT အကြိမ်/ ရက်စွဲ ၈/၂၀၁၉ (၂၅-၂-၂၀၁၉)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု ပြီး(✔) မပြီး(X) | မှတ်ချက် |
|---|---|---|---|
| ၁။ | Accreditation Certificate ရရှိရန် ဆောင်ရွက်နေမှု အခြေအနေအား တင်ပြရန် | ✔ | |

အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Novelty Service Co., Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Novelty Service Co., Ltd. |
| | ရင်းနှီးမြှုပ်နှံသူ | - ဦးပိုင်သာထူး |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - ပညာရေးဝန်ဆောင်မှုလုပ်ငန်း |
| ၂။ | တည်နေရာ | - အမှတ်-၃၅ (ဘီ)၊ မြေကွက်အမှတ်-၁၇ (အေ၊ ဘီ၊ စီ)၊ ၁၈ (အေ၊ ဘီ)၊ တက္ကသိုလ်ရိပ်မွန်အပိုင်း (၂)၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး နှင့်<br>- အမှတ် (၁၅၀/ဘီ)၊ မြေတိုင်းရပ်ကွက်အမှတ်-(၃၅-ဘီ)၊ မြေကွက်အမှတ်-(၄/၂ ဘီ၊ ၄ စီ$^{၄}$ ၊ ၄ စီ/ ၁-အေ)၊ တက္ကသိုလ်ရိပ်သာလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| | မြေအကျယ်အဝန်းနှင့် အဆောက်အဦ အရေအတွက် | - ၀.၇၆၃ ကေ<br>(အလျား ၁၆၁ ပေ × အနံ ၂၇ ပေ ရှိ ၅ ထပ် အဆောက်အဦ ၁ လုံး၊ အလျား ၁၅၀ ပေ × အနံ ၂၆ ပေ ရှိ ၄ ထပ် အဆောက်အဦ ၁ လုံး၊ အလျား ၈၀ ပေ × အနံ ၄၀ ပေ ရှိ ကစားကွင်း ၁ခု၊ အလျား ၄၀ ပေ × အနံ ၁၀ ပေ ရှိ လုံခြုံရေးအဆောက်အဦ ၁ လုံး)<br>- ၀.၄၇၆ ကေ<br>(အလျား ၇၃ ပေ × အနံ ၇၃ ပေ ရှိ ၄ ထပ်ခွဲ အဆောက်အဦ ၁ လုံး၊ အလျား ၇၃ ပေ × အနံ ၂၂ ပေ ရှိ ဂိုဒေါင်အဆောက်အဦ ၁ လုံး) |
| | မြေနှင့် အဆောက်အဦ ပိုင်ရှင် | - ဒေါ်ရီရီသာ၊ ဦးဒိန်ယိန်း၊ ဒေါ်ခေါ်ဝင်း |
| | နှစ်စဉ်မြေနှင့်အဆောက်အဦ ငှားရမ်းခ | - ၀.၇၆၃ ကေ အတွက် အမေရိကန်ဒေါ်လာ ၄၈၀,၀၀၀ နှင့်<br>- ၀.၄၇၆ ကေ အတွက် ကျပ် သန်း ၂၄၀.၀၀၀ |
| | မြေငှားရမ်းအသုံးပြုသည့် သက်တမ်း | - ၁၀ နှစ် |

| | | |
|---|---|---|
| ၃။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့် သက်တမ်း | - |
| ၄။ | တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ | - |
| ၅။ | စုစုပေါင်းမတည်ငွေရင်း | - **ကျပ် ၁,၂၈၉.၄၄၆ သန်း** |
| | **ထည့်ဝင်သည့်အမျိုးအစား** | ကျပ် (သန်း) |
| | ငွေသား | ၈၅၁.၀၀၇ |
| | ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း | ၄၃၈.၄၃၉ |
| | **စုစုပေါင်း** | ၁,၂၈၉.၄၄၆ |
| ၆။ | ဝန်ဆောင်မှုအမျိုးအစားနှင့် ဝန်ဆောင်ခနှုန်းထား | |

| စဉ် | အမျိုးအမည် | ကာလ (လ) | ကျောင်းသားဦးရေ | ဝန်ဆောင်ခနှုန်း (US$) |
|---|---|---|---|---|
| (က) | Pre-Nursery | ၁၂ | ၆ | ၃,၆၀၀ |
| (ခ) | Nursery | ၁၂ | ၁၇ | ၄,၆၀၀ |
| (ဂ) | Pre-Kindergarten | ၁၂ | ၁၀ | ၅,၂၀၀ |
| (ဃ) | Kindergarten | ၁၂ | ၂၀ | ၆,၃၀၀ |
| (င) | Grade-1 | ၁၂ | ၂၂ | ၈,၀၀၀ |
| (စ) | Grade-2 | ၁၂ | ၂၀ | ၈,၀၀၀ |
| (ဆ) | Grade-3 | ၁၂ | ၂၆ | ၈,၀၀၀ |
| (ဇ) | Grade-4 | ၁၂ | ၂၅ | ၈,၀၀၀ |
| (ဈ) | Grade-5 | ၁၂ | ၂၉ | ၈,၀၀၀ |
| (ည) | Grade-6 | ၁၂ | ၂၉ | ၉,၀၅၀ |
| (ဋ) | Grade-7 | ၁၂ | ၃၀ | ၉,၀၅၀ |
| (ဌ) | Grade-8 | ၁၂ | ၂၈ | ၉,၀၅၀ |
| (ဍ) | Grade-9 | ၁၂ | ၄၀ | ၉,၆၀၀ |
| (ဎ) | Grade-10 | ၁၂ | ၂၂ | ၉,၆၀၀ |
| (ဏ) | Grade-11 | ၁၂ | ၂၀ | ၉,၆၀၀ |
| (တ) | Grade-12 | ၁၂ | ၁၃ | ၉,၆၀၀ |

| | | |
|---|---|---|
| ၇။ | ဝန်ထမ်းခန့်ထားမှု<br>သင်ကြားရေး | ပြည်တွင်း / ပြည်ပ<br>ဦးရေ — ၃၇ ဦး / ၃၆ ဦး<br>အမြင့်ဆုံးလစာ — ကျပ် ၅၀၀,၀၀၀ / US$ ၅,၀၀၀<br>အနိမ့်ဆုံးလစာ — ကျပ် ၃၀၀,၀၀၀ / US$ ၂,၅၀၀ |
| | စီမံခန့်ခွဲရေး | ပြည်တွင်း / ပြည်ပ<br>ဦးရေ — ၄၅ ဦး / -<br>အမြင့်ဆုံးလစာ — ကျပ် ၆၀၀,၀၀၀<br>အနိမ့်ဆုံးလစာ — ကျပ် ၁၆၀,၀၀၀ |
| ၈။ | အခြားတင်ပြချက် | - ငွေကြေးအထောက်အထားအဖြစ် Kanbawza Bank တွင် ဒေါ်ရီရီသာ၊ ဦးတင်မောင်ဝင်း နှင့် ဒေါ်အေးနှင်းဆွေ အမည်ဖြင့် ၃၀-၉-၂၀၁၈ ရက်စွဲတွင် ကျပ် ၈၀,၅၉၇,၂၈၂.၃၅ ရှိကြောင်း၊ Kanbawza Bank တွင် Novelty Service Co., Ltd. အမည်ဖြင့် ၃၀-၁၁-၂၀၁၈ ရက်စွဲတွင် အမေရိကန်ဒေါ်လာ ၁၂၄.၀၀ နှင့် AYA Bank တွင် ဒေါ်ရီရီလှ အမည်ဖြင့် ၂၉-၆-၂၀၁၈ ရက်စွဲတွင် ကျပ် ၈၁,၂၉၃,၈၄၅.၃၅ ရှိကြောင်း တင်ပြထားပါသည်။<br>- သင်ကြားနေသည့် ဆရာ/ဆရာမများ၏ ပညာအရည်အချင်း အထောက်အထားများနှင့် သင်ရိုးညွှန်းတမ်းများအား တင်ပြထား ပါသည်။<br>- Accreditation Certificate ရရှိရန် Western Association of School & College နှင့် ဆက်သွယ်ဆောင်ရွက်နေမှု အခြေအနေများအား တင်ပြထားပါသည်။<br>- အမျိုးသားပညာရေးဥပဒေ (၂၀၁၄)၊ အမျိုးသားပညာရေးဥပဒေ ပြင်ဆင်ချက်(၂၀၁၅)နှင့် နောင်ထွက်ပေါ်လာမည့် ပညာရေးဥပဒေ များအား လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်တို့ အား တင်ပြထားပါသည်။<br>- မြေနှင့်အဆောက်အဦ ငှားရမ်းခြင်း သဘောတူစာချုပ်နှင့် ပိုင်ဆိုင်မှု အထောက်အထားတို့အား တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိ ရေးအစီအစဉ်၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၉။ | စိစစ်တင်ပြချက် | - ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။<br>- ကုမ္ပဏီသည် Yangon Academy International School အမည်ဖြင့် ၂၀၀၄ ခုနှစ်ကပင် ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအား စတင်ဆောင်ရွက်ခဲ့ကြောင်း တွေ့ရှိရပါသည်။<br>- ကော်မရှင်ခွင့်ပြုမိန့် ရရှိပြီးပါက သက်ဆိုင်ရာ လုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်မည်ဖြစ်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက-၅(အ)/ ခ-၀၃၂/ ၂၀၁၉ (၂၈၁)
ရက်စွဲ၊ ၂၀၁၉ ခုနှစ် မေလ ၂၂ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Novelty Service Co., Ltd. မှ ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Novelty Service Co., Ltd. မှ အမှတ်-၃၅ (ဘီ)၊ မြေကွက်အမှတ်-၁၇ (အေ၊ ဘီ၊ စီ)၊ ၁၈ (အေ၊ ဘီ)၊ တက္ကသိုလ်ရိပ်မွန်အပိုင်း (၂)၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးနှင့် အမှတ် (၁၅၀/ဘီ)၊ မြေတိုင်းရပ်ကွက်အမှတ်-(၃၅-ဘီ)၊ မြေကွက်အမှတ်-(၄/၂ ဘီ၊ ၄ စီ[၄] ၊ ၄ စီ/ ၁-အေ)၊ တက္ကသိုလ်ရိပ်သာလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် ပညာရေးဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ Novelty Service Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ ဝန်ထမ်းများ၏ သက်သာချောင်ချိရေးအစီအစဉ်၊ သင်ကြားမည့် ဆရာ/ဆရာမများ၏ ပညာအရည်အချင်းအထောက်အထားများ၊ သင်ကြားမည့် သင်ရိုးညွှန်းတမ်း၊ Accreditation Certificate ရရှိရန် Western Association of School & College နှင့် ဆက်သွယ်ဆောင်ရွက်နေမှု အခြေအနေများနှင့် မြေပိုင်ဆိုင်မှု အထောက်အထားများအား ပူးတွဲတင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ ကျပ် ၁,၂၈၉.၄၄၆ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| **ထည့်ဝင်မည့်အမျိုးအစား** | **စုစုပေါင်း ကျပ်(သန်း)** |
|---|---|
| ငွေသား | ၈၅၁.၀၀၇ |
| ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း | ၄၃၈.၄၃၉ |
| **စုစုပေါင်း** | **၁,၂၈၉.၄၄၆** |

၄။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် သင်ကြားရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်း ၃၇ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်ပဝန်ထမ်း ၃၆ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၃၀၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပြီး ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၂,၅၀၀ နှင့် အမြင့်ဆုံးလစာမှာ US$ ၅,၀၀၀ ဖြစ်ပါသည်။ စီမံခန့်ခွဲရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်း ၄၅ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်ပဝန်ထမ်း ခန့်ထားခြင်း မရှိပါ။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၆၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ၆၀၀,၀၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ဝန်ဆောင်မှုပေးမည့် သင်တန်းများနှင့် ဝန်ဆောင်ခနှုန်းတို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ကာလ (လ) | ကျောင်းသား ဦးရေ | ဝန်ဆောင်ခနှုန်း (US$) |
|---|---|---|---|---|
| (က) | Pre-Nursery | ၁၂ | ၆ | ၃,၆၀၀ |
| (ခ) | Nursery | ၁၂ | ၁၇ | ၄,၆၀၀ |
| (ဂ) | Pre-Kindergarten | ၁၂ | ၁၀ | ၅,၂၀၀ |
| (ဃ) | Kindergarten | ၁၂ | ၂၀ | ၆,၃၀၀ |
| (င) | Grade-1 | ၁၂ | ၂၂ | ၈,၀၀၀ |
| (စ) | Grade-2 | ၁၂ | ၂၀ | ၈,၀၀၀ |
| (ဆ) | Grade-3 | ၁၂ | ၂၆ | ၈,၀၀၀ |
| (ဇ) | Grade-4 | ၁၂ | ၂၅ | ၈,၀၀၀ |
| (ဈ) | Grade-5 | ၁၂ | ၂၉ | ၈,၀၀၀ |
| (ည) | Grade-6 | ၁၂ | ၂၉ | ၉,၀၅၀ |
| (ဋ) | Grade-7 | ၁၂ | ၃၀ | ၉,၀၅၀ |
| (ဌ) | Grade-8 | ၁၂ | ၂၈ | ၉,၀၅၀ |
| (ဍ) | Grade-9 | ၁၂ | ၄၀ | ၉,၆၀၀ |
| (ဎ) | Grade-10 | ၁၂ | ၂၂ | ၉,၆၀၀ |
| (ဏ) | Grade-11 | ၁၂ | ၂၀ | ၉,၆၀၀ |
| (တ) | Grade-12 | ၁၂ | ၁၃ | ၉,၆၀၀ |

၆။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဝန်ကြီးဌာန၊ အဖွဲ့အစည်းများသို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ၂၀၁၉ ခုနှစ် ဧပြီ လ ၁၁ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် ၁၃/၂၀၁၉၊ ဆုံးဖြတ်ချက်အပိုဒ် ၇၅ အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက် ပြန်ကြားခဲ့ပါသည်။

(ခ) **ပညာရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ဥပဒေ၊ နည်းဥပဒေ၊စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့် ကိုက်ညီပါကပုဂ္ဂလိကရင်းနှီးမြှုပ်နှံရန် ထောက်ခံပါကြောင်းနှင့် ပညာရေးဝန်ကြီးဌာနတွင် မှတ်ပုံတင်နိုင်ရေး ဆက်လက်ဆောင်ရွက် ပေးသွားမည်ဖြစ်ပါကြောင်း သဘောထားပြန်ကြားခဲ့ပါသည်။

၇။ ငွေကြေးအထောက်အထားအဖြစ် Kanbawza Bank တွင် ဒေါ်ရီရီသာ၊ ဦးတင်မောင်ဝင်းနှင့် ဒေါ်အေးနှင်းဆွေ အမည်ဖြင့် ၃၀-၉-၂၀၁၈ ရက်စွဲတွင် ကျပ် ၈၀,၅၉၇,၂၈၂.၃၅ ရှိကြောင်း၊ Kanbawza Bank တွင် Novelty Service Co., Ltd. အမည်ဖြင့် ၃၀-၁၁-၂၀၁၈ ရက်စွဲတွင် အမေရိကန်ဒေါ်လာ ၁၂၄.၀၀ နှင့် AYA Bank တွင် ဒေါ်ရီရီလှ အမည်ဖြင့် ၂၉-၆-၂၀၁၈ ရက်စွဲတွင် ကျပ် ၈၁,၂၉၃,၈၄၅.၃၅ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၈။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

(ဂ) ကုမ္ပဏီသည် Yangon Academy International School အမည်ဖြင့် ၂၀၀၄ ခုနှစ်ကပင် ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအား စတင်ဆောင်ရွက်ခဲ့ကြောင်း တွေ့ရှိရပါသည်။

(ဃ) ကော်မရှင်ခွင့်ပြုမိန့် ရရှိပြီးပါက သက်ဆိုင်ရာ လုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်မည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၉။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Novelty Service Co., Ltd. မှ ပညာရေးဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(သန့်စင်လွင်၊ ခေတ္တအတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

| | |
|---|---|
| ဝင်စာအမှတ် | M၄-၁၆၁၀ |
| ရက်စွဲ | ၁၈.၄.၁၉ |



နောက်ဆက်တွဲ-က

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**တိုင်းဒေသကြီးအစိုးရအဖွဲ့**

**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၃/၆ - ၃ (၇) / တိုင်းရင်းသား

ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဧပြီလ ၁၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂.၃.၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက - ၅ (အ)/ခ - ၀၃၂ / ၂၀၁၉ (၂၁၇)

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Novelty Service Co.,Ltd မှ အမှတ်-၃၅(ဘီ)၊ မြေကွက်အမှတ် - ၁၇ (အေ၊ ဘီ၊ စီ)၊ ၁၈ (အေ၊ ဘီ)၊ တက္ကသိုလ်ရိပ်မွန်အပိုင်း (၂)၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးနှင့် အမှတ်(၁၅၀/ဘီ)၊ မြေတိုင်းရပ်ကွက်အမှတ်(၃၅-ဘီ)၊ မြေကွက်အမှတ် (၄/၂ ဘီ၊ ၄ စီ၊ ၄ စီ/ ၁-အေ)၊ တက္ကသိုလ်ရိပ်သာလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတို့တွင် ပညာရေးဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၁၁.၄.၂၀၁၉ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၃/၂၀၁၉)၊ ဆုံးဖြတ်ချက်အပိုဒ်(၇၅)အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

(signature)

ဝန်ကြီးချုပ်(ကိုယ်စား)

(နိုင်ငံလင်း၊ လူမှုရေးဝန်ကြီး)

**မိတ္တူကို**

တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး၊ ရန်ကုန်တိုင်းဒေသကြီး

တိုင်းဒေသကြီးဦးစီးမှူး၊ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ရန်ကုန်အနောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန

ဗဟန်းမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန

Novelty Service Co.,Ltd

လက်ခံစာတွဲ/မျှောစာတွဲ

နောက်ဆက်တွဲ-ခ



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## ပညာရေးဝန်ကြီးဌာန

## ဝန်ကြီးရုံး

NPT-1415
၃-4.19

| | |
|---|---|
| ဝင်စာအမှတ် | M4-၁၆၇၈ |
| ရက်စွဲ | ၃.၄.၂၀၁၉ |

စာအမှတ်၊ မူဝါဒ(သဘောထားမှတ်ချက်) ၀၀၆/၂၀၁၉(၆၅၈၈)
ရက်စွဲ ၊ ၂၀၁၉ ခုနှစ်၊ မတ်လ ၂၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂-၃-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက - ၅ (အ) / ခ - ၀၃၂ / ၂၀၁၉ (၂၁၆)

(၂) ပညာရေးဝန်ကြီးဌာန၏ ၁၃-၇-၂၀၁၈ ရက်စွဲပါစာအမှတ်၊ စီမံကိန်း (MIC)/ ၂၀၁၈(၁၀၅၇၁)

(၃) ပညာရေးဝန်ကြီးဌာန၏ ၂၉-၁၀-၂၀၁၈ ရက်စွဲပါစာအမှတ်၊ စီမံကိန်း (သဘောထား)/၂၀၁၈(၁၇၀၅၇)

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Novelty Service Co., Ltd. မှ အမှတ်-၃၅(ဘီ)၊မြေကွက်အမှတ်-၁၇(အေ၊ဘီ၊စီ)၊ ၁၈(အေ၊ဘီ)၊ တက္ကသိုလ်ရိပ်မွန်အပိုင်း(၂)၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီးနှင့်အမှတ်(၁၅၀/ဘီ)၊ မြေတိုင်းရပ်ကွက်အမှတ်-(၃၅ဘီ)၊ မြေကွက်အမှတ်-(၄/၂ဘီ၊၄စီ၆/၄စီ/၁-အေ)၊ တက္ကသိုလ်ရိပ်သာလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတို့တွင် ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် မေတ္တာရပ်ခံလာပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လာရောက်လျှောက်ထားသည့် ကုမ္ပဏီများကို အရည်အသွေးအာမခံမှုရှိသော ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအတွက် အောက်ပါအချက်များနှင့် ကိုက်ညီမှုရှိ-မရှိ စိစစ်ဆောင်ရွက်ပြီး ပညာရေးဝန်ကြီးဌာနတွင် မှတ်ပုံတင်နိုင်ရေး ဆက်လက်ဆောင်ရွက်ပေးသွားမည်ဖြစ်ပါကြောင်း ပညာရေးဝန်ကြီးဌာနမှ ရည်ညွှန်း(၂)ပါ စာဖြင့်လည်းကောင်း၊ အမျိုးသားပညာရေးမူဝါဒကော်မရှင်၏ သဘောထားမှတ်ချက်ကို ရည်ညွှန်း(၃)ပါစာဖြင့်လည်းကောင်း ပေးပို့ခဲ့ပြီးဖြစ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံသူ/ အဖွဲ့အစည်း၏ နိုင်ငံသားဖြစ်မှု (မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊

(ခ) ရင်းနှီးမြှုပ်နှံမှုပုံစံ၊

(၁) နိုင်ငံသား၊

(၂) နိုင်ငံသားနှင့်နိုင်ငံခြားသားဖက်စပ်

(၃) နိုင်ငံခြားသား၊

(ဂ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်း/သင်တန်းအမျိုးအစား

(ဃ) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်အမျိုးအစားများနှင့် အသိအမှတ်ပြုသည့်အဖွဲ့အစည်း၊

(င) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်များ၏ နမူနာပုံစံ၊

(စ) သင်ရိုးညွှန်းတမ်းနှင့် သင်ရိုးမာတိကာအမျိုးအစား (အမျိုးသားသင်ရိုးညွှန်းတမ်း သို့မဟုတ် အပြည်ပြည်ဆိုင်ရာသင်ရိုးညွှန်းတမ်း)၊

(ဆ) ပုဂ္ဂလိကကျောင်း၏ အုပ်ချုပ်ရေး၊ စီမံခန့်ခွဲရေး၊ သင်ကြားရေးဆိုင်ရာကိစ္စများကို တာဝန်ခံဆောင်ရွက်သောပုဂ္ဂိုလ် သို့မဟုတ် အဖွဲ့အစည်းဝင်များ၏ ပညာအရည်အချင်း အထောက်အထား၊

(ဇ) ပုဂ္ဂလိကကျောင်း၏ အတန်းများတွင် ဘာသာရပ်အလိုက် သင်ကြားမည့် ပုဂ္ဂလိက ကျောင်းဆရာများ၏ဘွဲ့လက်မှတ်၊ အထောက်အထားများ၊ သင်ကြားရေး အတွေ့အကြုံ များနှင့်ကိုယ်ရေးအကျဉ်း၊

(ဈ) ကျောင်းဆရာ၏ နိုင်ငံသားဖြစ်မှု ( မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊

(ည) ပုဂ္ဂလိကကျောင်း၏ ဆရာ၊ ဆရာမနှင့် စီမံခန့်ခွဲရေးဝန်ထမ်း လုံလောက်မှု ရှိကြောင်း ဝန်ခံချက်၊

(ဋ) ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် ထားရှိရမည့် ကျောင်းပရိဝုဏ်၊ အဆောက်အအုံ လုံလောက်မှု ရှိ/မရှိနှင့် အသုံးပြုခွင့်ရှိသော အထောက်အထား၊

(ဌ) ပုဂ္ဂလိကကျောင်း ဖွင့်လှစ်ခြင်းနှင့်ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်း၊ ပုဂ္ဂလိကကျောင်းတည်ထောင်ဖွင့်လှစ်မည့် ပရိဝုဏ်၏ ဘေးပတ်ဝန်းကျင်တွင် အနီးစပ်ဆုံး နေထိုင်သူအနည်းဆုံး(၁၀)ဦး သဘောတူလက်မှတ်ရေးထိုးထားသည့် အထောက်အထားနှင့် ယင်းအထောက်အထား မှန်ကန်ကြောင်း သက်ဆိုင်ရာ ရပ်ကွက်အုပ်ချုပ်ရေးမှူး၏ ထောက်ခံချက်၊

(ဍ) ပညာရပ်ဆိုင်ရာဝန်းကျင်ကောင်းရှိ/မရှိ

(၁) ပုဂ္ဂလိကကျောင်းဝင်း၊ ပတ်ဝန်းကျင်၊ စာသင်ခန်းများ၊ လက်တွေ့ခန်းများသည် ကျန်းမာရေးနှင့်ညီညွတ်၍ သန့်ရှင်းစင်ကြယ်စေရန် အစီအစဉ်ထားရှိ ခြင်း၊

(၂) အရေးပေါ်ကျန်းမာရေးစောင့်ရှောက်မှု အစီအစဉ်ထားရှိခြင်း၊

(၃) ကျောင်းလုံခြုံရေးနှင့် မီးဘေးကာကွယ်ရေးအစီအစဉ်ထားရှိခြင်း၊

(ဎ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် သက်ဆိုင်ရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်၊

(ဏ) အမျိုးသားပညာရေးဥပဒေ၊ တည်ဆဲပညာရေးဆိုင်ရာ ဥပဒေများကို လိုက်နာရန်နှင့် နောင်ထွက်ပေါ်လာမည့် ပညာရေးဥပဒေများနှင့်အညီ လိုက်နာဆောင်ရွက်သွားရန် ကတိပြုဝန်ခံချက်၊

(တ) ပုဂ္ဂလိကကျောင်း၏ ပရိဝုဏ်အတွင်း အရက်သေစာနှင့် မူးယစ်ဆေးဝါး သုံးစွဲခြင်း မရှိစေရေး ကတိဝန်ခံချက်၊

(ထ) ဆရာ၊ ဆရာမနှင့် ကျောင်းသား၊ ကျောင်းသူများ၏ ကာယိန္ဒြေ ထိခိုက်မှု မရှိစေရေး ကတိဝန်ခံချက်၊

၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လာရောက်လျှောက်ထားသည့် ကုမ္ပဏီများကို အရည်အသွေးအာမခံမှုရှိသော ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအတွက် အထက်ဖော်ပြပါ အပိုဒ်(၂) (က)မှ (ထ)ရှိ အချက်အလက်များဖြင့် မဖြစ်မနေ စိစစ်ရန်နှင့် Novelty Service Co., Ltd. ၏ ပညာရေးဝန်ဆောင်မှုလုပ်ငန်းသည် နိုင်ငံတကာအသိအမှတ်ပြု ခိုင်မာမှု ရှိ-မရှိ စိစစ်ရန်လည်း လိုအပ်ပါသည်။

၄။ ပညာရေးဝန်ကြီးဌာနသို့ ဆက်သွယ်ဆောင်ရွက်လိုပါက အောက်ဖော်ပြပါ ပုဂ္ဂိုလ်အား ဆက်သွယ်ဆောင်ရွက်နိုင်ပါကြောင်း ဖော်ပြအပ်ပါသည်-

ဒေါက်တာကျော်နိုင်

ဒုတိယအမြဲတမ်းအတွင်းဝန်

ပညာရေးဝန်ကြီးဌာန

ဖုန်း- ဝ၆၇ ၃၄ဝ၇၁၁၆

အီးမေးလ် - drkyawnaing2009@gmail.com

၅။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Novelty Service Co., Ltd. မှ အမှတ်-၃၅(ဘီ)၊မြေကွက်အမှတ်-၁၇(အေ၊ဘီ၊စီ)၊ ၁၈(အေ၊ဘီ)၊ တက္ကသိုလ်ရိပ်မွန်အပိုင်း(၂)၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီးနှင့်အမှတ်(၁၅ဝ/ဘီ)၊ မြေတိုင်းရပ်ကွက်အမှတ်-(၃၅ဘီ)၊ မြေကွက်အမှတ်-(၄/၂ဘီ၊၄စီ၆/၄စီ/၁-အေ)၊ တက္ကသိုလ်ရိပ်သာလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီးတို့တွင် ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ပညာရေးဝန်ကြီး ဌာနအနေဖြင့် မြန်မာ့ပညာရေးကဏ္ဍတွင် ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုကို ကြိုဆိုပါကြောင်းနှင့် ပညာရေး ဝန်ဆောင်မှု ဆိုင်ရာလုပ်ငန်းများအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း စည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်ကိုက်ညီပါက ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုကို ထောက်ခံ ပါကြောင်း ပြန်ကြားအပ်ပါသည်။

Kyaw Naing
29-3-19

ဒုတိယဝန်ကြီး (ကိုယ်စား)

( ဒေါက်တာကျော်နိုင်၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို -

ရုံးလက်ခံ

မျှောစာတွဲ